ဖေမြင့်

# နှလုံးသားအာဟာရ

ရသစာများ

တတိယတွဲ

[မူရင်း ထုတ်ဝေသူနှင့် စာရေးဆရာတို့အား ဂုဏ်ယူအသိအမှတ်ပြု
အပ်ပါသည်။]

## "ဒုက္ခိတဘဝကို လက်မခံတဲ့ ကောင်လေး"

အဲသည် ရွာကျောင်းကလေးမှာ ဆောင်းတွင်း အနွေးပေးသည့် ရှေးမီးဖိုကြီးတစ်ခု ရှိသည်။ ကျောက်မီးသွေး သုံးသည့် ဗိုက်အိုးကျယ် သံမီးဖိုမျိုး။ ကောင်းလေးတစ်ယောက် က နေ့စဉ် နံနက်စောစောလာပြီး မီးမွှေးရသည်။ သူ့ဆရာနှင့် သူ့အတန်းဖော်များလာလျှင် စာသင်ခန်းလေး နွေးနေအောင်ပေါ့။

တစ်မနက် ကျောင်းတက်သူတွေ လာကြသည့်အချိန် မှာတော့ စာသင်ကျောင်းကလေးမှာ မီးတွေ တဟုန်းဟုန်း တောက်နေတာ တွေ့ကြရသည်။ ကျောင်းထဲမှာ သတိမေ့ နေသည့် ကောင်လေးကို သူတို့ဝိုင်းဝန်း ဆွဲထုတ်ကြသည်။ ကောင်းလေးက သေသလား၊ ရှင်သလား မခွဲခြားနိုင်သည့် အနေ အထားမျိုး။ သူ့ခန္ဓာကိုယ် အောက်ပိုင်းက မီးတွေ အကြီးအကျယ်

လောင်ထားသည်။ သူ့ကို နီးရာနယ်မြေဆေးရုံသို့ သယ်ယူခဲ့ကြသည်။

ဆေးရုံ ခုတင်ပေါ်မှာ သတိလစ်တစ်ချက် မလစ်တစ်ချက် ဖြစ်နေသည့်ကြားက ကောင်လေးနားထဲမှာ ဆရာဝန့်စကားသံတွေ မသဲမကွဲ ကြားနေသည်။ ဆရာဝန်က သူ့မိခင်အား သူမ၏သား အသက်ရှင်စရာလမ်းမရှိသည့်အကြောင်း၊ စင်စစ်ခန္ဓာကိုယ် အောက်ပိုင်းတစ်ခုလုံး ယခုလောက် ဆိုးဆိုးဝါးဝါးကြီးလောင်ကျွမ်း ပျက်စီးသွားပြီးသည့်နောက်တွင်တော့ အသက်ဆက်မရှင်တာသည်ပင် ကောင်းသေးကြောင်း ပြောကြားနေခြင်းဖြစ်သည်။

သတ္တိကောင်းသည့် သည်ကောင်းလေးက သေရမှာကို မလိုမရှိ။ ငါမသေဘူး၊ အသက်ရှင်ရမယ်ဟု သူအဓိဋ္ဌာန်ပြုသည်။ တကယ်ပင် သူ ဆက်အသက်ရှင်လာတော့ ဆရာဝန် အံ့အား

သင့်ရသည်။ မသေနိုင်တော့ဘူးဆိုတာ သေချာသွားသည့်အချိန် ဆရာဝန်နှင့် သူ့မိခင် ဆွေးနွေးပြောဆိုနေတာ သူကြားရပြန်သည်။ သူ့ခန္ဓာကိုယ် အောက်ပိုင်းက အသားတွေ အမြောက်အများ မီးကြောင့် ပျက်စီးသွားခဲ့ပြီဖြစ်ရာ ခြေနှစ်ချောင်းစလုံး သုံးမရ တော့သဖြင့် တစ်သက်လုံး မစွမ်းမသန် ဒုက္ခိတဘဝဖြင့် နေသွား ရလိမ့်မည်ဆိုသည့် အကြောင်းဖြစ်၏။

သည်စကား ကြားပြီးသည့်နောက် ကောင်းလေး တစ်ကြိမ်ထပ်၍ အဓိဋ္ဌာန်ပြုသည်။ ငါလမ်းလျှောက်နိုင်ရမယ်၊ ဒုက္ခိတဘဝ လုံးမရောက်စေရဟူ၍။

သို့သော် အဓိဋ္ဌာန်ပြုမည့်သာ ပြုရသည်။ ခါးအောက်ပိုင်း တစ်ခုလုံးက အသက်မဝင်၊ လှုပ်ရှားနိုင်စွမ်းမရှိ ဖြစ်နေသည်။ ကြုံလှီသေးကွေးသော ခြေထောက်နှစ်ချောင်းက အောက်ဘက် မှာ တွဲလောင်းကလေး။

သည်လိုဖြင့် နောက်၌ သူ ဆေးရုံမှ ဆင်းခွင့်ရခဲ့သည်။ အိမ်တွင် အမေက သူ့ခြေထောက်ကလေးတွေကို နေ့စဉ် နှိပ်နယ်ပေးသည်။ သို့သော် ခြေထောက်တွေက ဘာခံစားမှုမျှမရှိ၊ ဘယ်လိုမှလည်း လှုပ်ရှားခိုင်း၍မရ၊ လုံးဝအသုံးမကျ ဖြစ်နေသည်။

သို့သော် လမ်းထလျှောက်နိုင်ရမည်ဟူသော သန္နိဋ္ဌာန်က ခိုင်မာမြဲ ခိုင်မာဆဲပင်။

အိမ်၌ သူ့ကို အိပ်ရာထဲ ထားလျှင်ထား၊ မဟုတ်လျှင် ဘီးတပ်ကုလားထိုင်၌ ထားလေ့ရှိသည်။ နေသာသော တစ်နေ့ အမေက သူ့ကို လေကောင်းလေသန့် ရှူရအောင်ဟူ၍ ခြံထဲ တွန်းယူသွားပြီးထားသည်။ အဲ့သည်နေ့မှာ သူက ကုလားထိုင်ထဲချည်း ထိုင်မနေတော့ဘဲ အောက်သို့ လှိမ့်၍ဆင်းသည်။

အဲသည်နောက် ခြေထောက် နှစ်ချောင်းကို ဒရွတ်ဆွဲကာ မြတ်ခင်းမှာ ဝမ်းလျားထိုး၍ သွားသည်။

သူတို့မြေကွက်ကို ကာရံထားသည့် အဖြူရောင် ခြံစည်းရိုးတန်းဆီရောက်အောင် အားခဲပြီး သူသွားသည်။ သည့်နောက်တွင် ခဲယဉ်းပင်ပန်းစွာ အားထုတ်ကြိုးပမ်းကာ သူ့ကိုယ်သူ ခြံစည်းရိုးမှာ တွဲပြီးထူသည်။ ပြီးလျှင် ငါလမ်းလျှောက်နိုင်ရမည်ဟူသော အားမာန်ဖြင့် စည်းရိုးတန်းတစ်လျှောက် သည်တိုင်မှ ဟိုတိုင် ဒရွတ်တိုက်လျက် ရွေ့သည်။ အဲသည်မှစတင်ကာ နေ့စဉ်နေ့တိုင်း သည်အတိုင်း ကြိုးစားအားခဲ၍လုပ်ရာ ခြံစည်းရိုးတန်းနံ့ဘေးတစ်လျှောက်တွင် ချောမွတ်ညီညာသော လမ်းကြောင်းရာတစ်ခုပင် ထင်လာသည်။ သူ့အဖို့ လောက၌ သူ့ခြေထောက်နှစ်ချောင်း အသက်ဝင်လာအောင် လေ့ကျင့်ပျိုးထောင်ဖို့ထက် ပို၍ ထက်သန်လိုလားအပ်သော အရာမရှိခဲ့။

သို့နှင့် နောက်ဆုံး၌၊ နေ့စဉ်နှိပ်နယ်ကုသမှု၊ မဆုတ်မနစ်သော စိတ်ဓါတ်ဇွဲနှင့် ခိုင်မာသော သန္နိဋ္ဌာန်တို့ဖြင့် ကြိုးစား အားထုတ်မှုများကြောင့် သူ မတ်တတ်ရပ်နိုင်လာသည်။ သည်နောက်တွင် ထော့တီးထော့နဲ့ လမ်းလျှောက်နိုင်လာသည်။ အဲ့သည်နောက် လွတ်လွတ်ကျွတ်ကျွတ်။ အဲ့သည်နောက်တွင်ကား ပြေးနိုင်လာသည်။

သူ ကျောင်းသို့ လမ်းလျှောက်သွားသည်။ သည်နောက် ပြေးသွားသည်။ နောက်တွင်မူ ပြေးရသည်ကို နှစ်သက်ခြင်း သက်သက်အတွက်ကြောင့်ပင် လျှောက်၍ ပြေးလေတော့သည်။

ကောလိပ်ကျောင်း ရောက်သည့်အခါ ပြေးခုန်ပစ် အားကစားသမားအဖွဲ့ထဲမှာ သူပါလာသည်။

နောက်တွင်မူ၊ တစ်ချိန်သောအခါက အသက်ပင် ရှင်မှာ မဟုတ်ဘူးဟု ထင်ခဲ့ရသော၊ အသက်ရှင်သည့်တိုင် ဘယ်နည်း

နှင့်မျှ လမ်းလျှောက်နိုင်မည်မဟုတ်ဟု ယူဆခဲ့ရသော၊ ပြေးနိုင်ဖို့ ဆိုသည်ကိုကား နည်းနည်းမျှပင် မျှော်လင့်၍ မရနိုင်ခဲ့သော၊ အလွန်ဖွဲ့ကြီးလှသည့် ထိုကောင်လေး ဂလင်ကန်နင်ဟမ်သည် တစ်ဖက်က ပညာရေးဘက်တွင် အောင်မြင်သော ဒေါက်တာ ဂလင်ကန်နင်ဟမ်ဟူ၍ ဖြစ်လာသည့်အပြင်၊ တစ်မိုင်အဝေးကို ကမ္ဘာပေါ်မှာ အမြန်ဆုံးပြေးနိုင်သူအဖြစ်လည်း နယူးယောက်မြို့ မေဒီဆင်စကွဲယား ပန်းခြံကြီးထဲတွင် စံချိန်တင် ပြေးပြနိုင်ခဲ့ပေသည်။

**[မူရင်း။ Burt Dubin ၏ The Power of Determination]**

## “အဖေနဲ့ ကျတော်”

အတွေ့အကြုံဆိုတာ
အရက်စက် အကြမ်းကြုတ်ဆုံး
ဆရာပဲ၊
ဒါပေမယ့် အဲ့ဒီက သင်ခန်းစာယူစမ်းပါ၊
ယူဖြစ်အောင် ယူပါ။
[စီ၊ အက်(စ်)၊ လူးဝစ်]

စပိန်ပြည်တောင်ပိုင်းရှိ အက်စတီပိုနာဆိုသည့် နေရာလေးမှာ ကျတော် ကြီးပြင်းခဲ့သည်။ ကျတော့်အသက် ၁၆ နှစ်အရွယ် တစ်နေ့နံနက်မှာ အဖေက သူ့အား ကျတော်တို့နှင့် ၁၈ မိုင်လောက် အကွာမှာရှိသည့် မီဂျား(စ်)ရွာသို့ ကားမောင်းပို့ခွင့်ပေးသည်။ အဲသည်လို ခွင့်ပေးခြင်းအတွက် ကျတော်က ကားကိုအနီးရှိ ဝပ်ရှော့တစ်ခုမှာ ရေဆေးဆီထိုး လုပ်ပေးရန်ပါ တာဝန်ယူရသည်။

အဲသည်တုန်းက ကျတော် ကားမောင်းတတ်စ၊ ကားကို ကိုင်တွယ်သုံးစွဲခွင့်လည်း သေသေချာချာ မရဖူးသေးသည့် ကာလဖြစ်ရာ အဖေပြောသည့်အခါ ကျွန်တော် အလျင်အမြန်ပင် ခေါင်းညိမ့်ဖြစ်ခဲ့သည်။

ကျတော် အဖေ့ကို မီဂျား(စ်)သို့ ကားမောင်းပို့သည်။ သည်နောက် ညနေ ၄ နာရီတိတိမှာ ပြန်လာကြိုမည်ဟု ကတိပေးခဲ့ပြီး ဝပ်ရှော့ရှိရာတန်းသွားကာ ကားကိုအပ်သည်။ အဲသည်နောက်မှာ အချိန် အတော်လေးပိုနေသဖြင့် ဝပ်ရှော့ အနီးရှိ ရုပ်ရှင်ရုံမှာ ရုပ်ရှင်တစ်ကား နှစ်ကား ဝင်ကြည့်မည်ဟု ကျတော် ဆုံးဖြတ်လိုက်သည်။ ရုံထဲရောက်ပြီးသည့်နောက် ရုပ်ရှင်ဇာတ်လမ်းများထဲ ကျတော် မျောပါကာ အချိန်ဘယ်လောက်ကြာမှန်းမသိ ဖြစ်သွားသည်။ နောက်ဆုံးကားပြီး၍ နာရီ ကြည့်မိသည့်အခါ ၆ နာရီ ထိုးနေပြီ။

နှစ်နာရီတိတိ ကျတော် နောက်ကျသွားပြီ။

ရုပ်ရှင်ကြည့်နေ၍ နောက်ကျမှန်းသိလျှင် အဖေ အကြီးအကျယ် ဒေါသထွက်တော့မည်။ ကျတော်ကို ဘယ်တော့မှ ကားမောင်းခွင့်ပေးမည် မဟုတ်တော့။ ထို့ကြောင့် အဖေ့အား ကားမှာ ပြင်စရာတွေ ရှိနေ၍ ဝပ်ရှော့က လူတွေ ထင်ထားတာထက် အကြာကြီး အချိန်ယူ လုပ်ကိုင်နေရကြောင်း ပြောရန် စဉ်းစားပြီး လာခဲ့သည်။

အဖေနှင့်တွေ့ရန် ချိန်းထားသည့်နေရာသို့ ရောက်သည့်အခါ စိတ်ရှည်လက်ရှည်ပင် အဖေ စောင့်မျှော်တာ ကျတော်တွေ့ရသည်။

နောက်ကျသည့်အတွက် တောင်းပန်ကြောင်း စကားပလ္လင်ခံကာ ကျတော်တတ်နိုင်သမျှ အမြန်ဆုံးလာခဲ့ခြင်းဖြစ်ကြောင်း၊ ဝပ်ရှော့မှာ ကြီးကြီးမားမား ပြင်ရတာတွေ ရှိနေ

သဖြင့် သည်လောက်ကြာနေခြင်းဖြစ်ကြောင်း ကျတော် ပြောလိုက်သည့်အချိန် ကျတော့်ကို လှမ်းကြည့်လိုက်သည့် အဖေ့၏ အကြည့်ကို ကျတော် တစ်သက်မေ့နိုင်မည် မဟုတ်ပါ။

"ဂျေဆင်၊ ဒီကိစ္စ အဖေ့ကို လိမ်ပြောမှဖြစ်မယ်လို့ မင်း သဘောထားတာ အဖေစိတ်မကောင်းဘူး သား"

"ဘာဖြစ်လို့လဲ အဖေ၊ ကျတော် အမှန်တိုင်း ပြောတာပဲ ဟာ"

အဖေ ကျတော်ကိုထပ်ကြည့်ပြန်သည်။

"မင်းပေါ်မလာတော့ ငါဝပ်ရှော့ကို ဘာတွေဖြစ်နေလဲ လှမ်းမေးတယ်၊ မင်းလာမယူသေးတာတဲ့၊ အဲ့ဒီတော့ ကားမှာ ဘာမှမဖြစ်ဘူးဆိုတာ ငါသိပြီးသားပေါ့ကွ၊"

ရုတ်တရက် ရှက်ကြောက်သည့်စိတ်ဖြင့် ကျတော် ထူပူ၍သွားသည်။ ရုပ်ရှင်ရုံသို့ သွားမိသဖြင့် နောက်ကျရခြင်း ဖြစ်ကြောင်း မပွင့်တပွင့် ကျတော်ဖွင့်ဟ ဝန်ခံရသည်။ ကျတော့် စကားများကို စူးစိုက်နားထောင်ရင်း အဖေ့မျက်နှာ ဝမ်းနည်း ကြေကွဲသည့် အရိပ်လက္ခဏာများ ယှက်သန်းလာသည်။

"အဖေ တော်တော် ဒေါသထွက်တယ်သား၊ သားကို မဟုတ်ဘူး၊ ကိုယ့်ကိုယ်ကို ဒေါသထွက်တာ၊ သားစဉ်းစားကြည့်၊ ဒီအရွယ်လောက်ထိ ရောက်လာတဲ့ အချိန် သားမှာ အဖေ့ကို လိမ်ပြောရမယ်ဆိုတဲ့ စိတ်မျိုးရှိနေတာ အဖေညံ့လို့ပဲ၊ အဖေ မွေးထားတဲ့သားဟာ ကိုယ့်အဖေကိုတောင် အမှန်တိုင်း မပြော နိုင်တဲ့ လူတစ်ယောက်ဖြစ်နေတာ အဖေအသုံးမကျလို့ပဲ၊ ဖခင် တစ်ယောက်အနေနဲ့ အဖေ မအောင်မြင်ခဲ့ဘူး၊ အခု အဖေ အိမ်ကို လမ်းလျှောက်ပြီးပြန်မယ်၊ သားကို ပြုစုပျိုးထောင်ခဲ့တဲ့ ဒီနှစ်

ကာလတွေအတွင်း အဖေ ဘာအများတွေ ကျူးလွန်မိခဲ့သလဲ အဖြေပေါ်တဲ့အထိ အဖေစဉ်းစားသွားမယ်၊"

"အဖေ၊ အိမ်အထိက ၁၈ မိုင်လောက်ဝေးတယ်အဖေ ရယ်၊ ပြီးတော့ မှောင်လဲ မှောင်နေပြီ၊ ဒီလောက်အဝေးကြီး အဖေ လျှောက်လို့ ဘယ်ဖြစ်မလဲ။"

ကျတော် တောင်းပန်တာ ကန့်ကွက်တာ ဖျောင်းဖျ ပြောဆိုတာတွေ အားလုံးပင် အချည်းနှီးသာ ဖြစ်ခဲ့သည်။ အဖေ အကြီးအကျယ် စိတ်မချမ်း မသာဖြစ်အောင် ကျတော် လုပ်ခဲ့ မိပြီ။ ယခုတော့ ကျတော်တစ်သက်တာမှာ အထိခိုက် အနာကျင် ရဆုံး သင်ခန်းစာတစ်ခု ကျတော် ခံယူရတော့မည်။

ဖုန်ထူသော ထိုလမ်းအတိုင်း အဖေ လျှောက်သွားသည့် အခါ ကျတော် ကားပေါ်ပြေးတက်ပြီး အဖေ့နောက်က လိုက်ရ သည်။ သည်မျှဆိုလျှင် အဖေရပ်လေမည်လား၊ အဖေ

လျှော့တော့မည်လား မျှော်လင့်ခြင်း ကြီးစွာဖြင့် တစ်လမ်းလုံး ကျတော် တောင်းပန်တိုးလျှိုးလာသည်။ အဖေ ကျတော်ကို တစ်ခွန်းမျှ ပြန်မပြော။ ဝမ်းနည်းကြေကွဲစွာ တွေဝေငေးမောကာ သာ လျှောက်၍ သွားနေသည်။ ၁၈ မိုင်လုံးလုံး အဖေ လမ်းလျှောက်သည့်နောက်က ပျမ်းမျှ တစ်နာရီ ၅ မိုင်နှုန်းလောက် ဖြင့် ကျွန်တော် ကားမောင်းလိုက်ပါလာရသည်။

ကျတော် ဘဝတစ်သက်တာတွင် အဖေ့ကို အဲသည်လို ကိုယ်ပင်ပန်းခြင်း စိတ်ပင်ပန်းခြင်းကြီးစွာ ခံစားနေရသည့် အနေ အထားဖြင့် မြင်တွေ့နေခဲ့ရသည့် ထိုစဉ်က အဖြစ်လောက် ခါးသီးဖွယ် ရင်နင့်ဖွယ် ကောင်းလှသော အတွေ့အကြုံမျိုး မရှိတော့ပါ။

သို့သော် အဲသည်အဖြစ်သည် အတွေ့အကြုံသည် ကျတော်နှလုံးသည်းပွတ်ထဲတွင် ထာဝရ စွဲမြဲသွားစေမည့်

သင်ခန်းစာတစ်ခု ပေးခဲ့သည်။ နောင်တစ်သက်ပတ်လုံး အဖေ့ ရှေ့မှောက်၌ မမှန်သောစကားကို တစိုးတစိမျှပင် ကျတော် မဆိုဖြစ်တော့။

**[မူရင်း။ Jason Bocarro ၏ A Long Walk Home]**



## “အမေ့မျက်နှာပေါ်က အမာရွတ်”

ကောင်လေးက မူလတန်းကျောင်းမှာ သူ ပထမဆုံး ကြုံရသည့် မိဘဆရာအသင်း အစည်းအဝေးအတွက် အမေ့ကို ဖိတ်ခိုင်းတော့ သူ ဖိတ်သည်။ သို့သော် တကယ်တက်မည် ဆိုသည့်အခါ သူလန့်သွားသည်။ သူ့ မိခင်ကို အတန်းဖော်များနဲ့ ဆရာမ ပထမဆုံးအကြိမ်အဖြစ် မြင်ကြရတော့မည်ဆိုတာ တွေးကာ သူ ထူထူပူပူ ဖြစ်သွားသည်။

မိခင်က နဂိုမူလ ရုပ်ရည်ချောမောသူတစ်ဦး ဖြစ်သည်။ သို့သော် မျက်နှာညာဘက်အခြမ်းမှာ အတော် ဆိုးဆိုးဝါးဝါး အမာရွတ်ကြီးတစ်ခု ထင်နေသည်။ ကောင်လေးက သည် အမာရွတ်အကြောင်း မကြားချင်။ သည်အမာရွတ်ကြီး ဘာကြောင့်ရသလဲ ဘယ်လိုရသလဲ မသိချင်။ ဒါကြောင့် ဘယ်တော့မှ သူမမေး။

အစည်းအဝေးမှာ အခြားလူများနှင့် ဆုံကြတော့၊ သူ့မိခင်မှာ အမာရွတ်ရှိတာ မှန်သော်လည်း ပင်ကိုအလှ ရှိတာ၊ ယဉ်ကျေး ပျူငှာတာတွေကြောင့် လူတွေက သဘောကျကြသည်။ ဒါကို မြင်သော်လည်း ကောင်လေးရှက်ရွံ့စိတ် မပြေ၊ ရှောင်ဖယ်ပုန်းလျှိုး၍ပဲ နေသည်။

သို့သော် တစ်နေရာမှာတော့ ဆရာမနှင့်သူ့ မိခင်တို့ စကားပြောနေကြတာ သူ ကြားရသည်။

“မျက်နှာပေါ်က အမာရွတ်က ဘယ်လိုရတာလဲ” ဆရာမက မေးသည်။

“သားလေး နို့စို့အရွယ်တုန်းကပေါ့၊ သူ့အခန်းထဲ မီးလောင်တော့ သားက ခုတင်လေးထဲမှာ၊ အခန်းထဲ မီးတွေ တဟုန်းဟုန်းဆိုတော့ ဘယ်သူမှ မဝင်ရဲဘူး၊ ကျွန်မ အတင်းဝင်ပြေးတာ၊ အဲဒီမှာ အပေါ်က ထုပ်တန်းကြီးတစ်ခု ပြုတ်ကျလာတော့ ကျွန်မ

သားအပေါ်ပြေးပြီး ကာလိုက်တာ၊ ကျွန်မကို ရိုက်မိပြီး အဲဒီမှာ တင်မေ့လဲသွားတယ်၊ ကံအားလျော်စွာပဲ မီးသတ်သမား ရောက်လာပြီး ဝင်ကယ်လို့ သားအမိ နှစ်ယောက်လုံး အသက် ချမ်းသာ ရာရတာ၊” မိခင်က မျက်နှာပေါ် ရှိ မီးလောင်ရာ အမာ ရွတ်ကို စမ်းရင်း ပြန်ပြောပြနေသည်။ “တစ်သက်လုံး အမာ ရွတ်ကြီး တစ်ခုတော့ထင်သွားတာပေါ့လေ၊ ဒါပေမဲ့ ဒီအတွက် ကျွန်မ တစ်ခါမှ ဝမ်းမနည်းမိပါဘူး၊” တဲ့၊ အမေက ဆိုသည်။

သည်စကား ကြားတော့မှ ကောင်လေး မျက်ရည်တွေ အဝိုင်းသားနှင့် ပြေးထွက်လာကာ အမေ့ကိုဖက်သည်။ သူ့ အတွက် အသက်ပေးကာကွယ်မည့် အမေ၏ စေတနာ အမေ့ မေတ္တာတွေကို ခံစားရကာ သူ့ရင်ထဲ လှိုက်၍နေသည်။ အဲသည် နေ့တစ်နေ့လုံး အမေ့လက်ကို သူ တင်းတင်းဆုပ်ထားသည်။ တစ်ချက်မျှပင် မလွှတ်တော့။

**[မူရင်း။ ။ Lih Yuh Kuo ၏ The Scar]**

## "ရှေငါးလေးတွေအကြောင်း"

ရှေငါးလေး တစ်ကောင် အိမ်မှာ အလှမွေးရာမှာ ကောင်းသောအချက်တွေ အများကြီးရှိသည်။ အလွန်ငယ်ရွယ်သေးသည့် ကလေးများကိုပင် တာဝန်သိစိတ်ရှိအောင် သူသင်ပေးနိုင်သည်။ ခွေးလေးများလို သူ့ကို လမ်းထုတ်ကျောင်းပေးစရာမလို။ အိမ်မှာ ရှုပ်ပွအောင် သူမလုပ်။ ကျင်ကြီးကျင်ငယ်လည်း မစွန့်။ ပြီး ရှေငါးလေး တစ်ကောင်နှင့်တစ်ကောင် ရုပ်ချင်းလည်း ဆင်တူ ကြသည်။

အဲသည် နောက်ဆုံးအချက်က အလွန်အရေးကြီးသည်။ အကြောင်းက ရှေငါးလေးတွေမှာ ရှိသည့် အားနည်းချက် တစ်ခုနှင့် ဆက်စပ်နေ၍ပဲ ဖြစ်သည်။ ရှေငါးလေးတွေသည် အတော်ပင် သက်တမ်း တိုတောင်းလှသည်။

ကျွန်မမှာ သမီး ၄ ယောက်ရှိသည်။ အကြီးဆုံး သမီး အင်နာနှင့် အငယ်ဆုံးသမီး အယ်လီယာနာက တစ်ယောက်နှင့် တစ်ယောက် ၁၂ နှစ် ကွာသည်။ အသက်ချင်း ခြားနားသော်လည်း သူတို့နှစ်ယောက် အတော်ပူးမိကြသည်။ ဒါကြောင့်လည်း အယ်လီယာနာ ညဘက် အမှောင်ထဲ အိပ်ရမှာကြောက်သည် ဆိုသည့်အခါ အင်နာက နည်းလမ်းရှာ၍ ဖြေရှင်းပေးခြင်း ဖြစ်သည်။

ကျွန်မတို့အိမ်မှာ အိပ်ခန်း ၄ ခန်းရှိသည်။ အယ်လီလေး အသက် ၂ နှစ်ခွဲ ရှိ၍ အိပ်ရာခွဲသိပ်ရမည့်အခါ သူ့ ကို သူ့အထက်က အစ်မ ကေလာနှင့် တစ်ခန်းတည်း သိပ်ရန် စီစဉ်သည်။ သမီးအကြီးနှစ်ယောက်က တစ်ယောက် တစ်ခန်းစီ ရကြသဖြင့် ကျေနပ်ကြသည်။ အယ်လီနှင့် ကေလာကို တစ်ခန်းတည်းသိပ်တော့ အယ်လီက ညအမှောင် ကြောက်သဖြင့်

မီးဖွင့်ထားချင်သည်။ ကေလာက မီးလင်းလျှင် မအိပ်တတ်။ သည်ပြဿနာကို အဖြေရှာဖို့အတွက် အင်နာစဉ်းစားသည်။

သူ တွေ့သည့်အဖြေက ရွှေငါးလေးတစ်ကောင် မွေး ဖို့ပဲ ဖြစ်သည်။

အင်နာက အယ်လီအတွက် ပလတ်စတစ် ငါးကန်လေး တစ်ကန်ဝယ်သည်။ ကန်ထဲမှာ ငါးကလေး ကူးခတ်သွားလာရန် ရေထည့်သည်။ ရောင်စုံကျောက်စရစ် ခဲလေးတွေ ထည့်သည်။ ပြီး၊ ငါးကန်လေး လင်းနေရုံ မီးသီးသေးသေးလေးတစ်လုံး ထွန်းပေးသည်။ အယ်လီက ငါးကန်ကို သူ့အိပ်ရာ ခုတင်နံဘေးရှိ စင်ကလေးမှာ ထားသည်။ သည်ကန်က အလင်းရောင် လေးကြောင့် သူစိတ်ချလက်ချ အိပ်နိုင်သည်။ အိပ်ခါနီးမှာ တီးတိုးနှုတ်ဆက်စကားပြောရန် အဖော်လည်း ရသည်။ ငါးကန်အလင်းရောင်က ခပ်မှိန်မှိန်လေးသာ ဆိုတော့ ကေလာ့

အတွက်လည်း အနှောင့်အယှက် မဖြစ်။ ပြီး ကေလာ ကိုယ်တိုင်လည်း ရွှေငါးလေးတစ်ကောင် မွေးရခြင်းအတွက် နှစ်သက်မှုရှိသည်။

အယ်လီက ငါးလေးကို နာရီချိန် အတိအကျ အစာကျွေးသည်။ ငါးကန်ကို သန့်ရှင်းရေးလုပ်ပေးရန်လည်း လူကြီးတွေကို ခဏခဏခိုင်းတတ်သည်။ သူ့ငါးလေး အဆိပ်မိပြီး သေမသွားစေရန်အတွက်လည်း ကန်ရေထဲကို ကလိုရင်း ဖျက်ဆေးရည်များ အမြဲဂရုစိုက် ထည့်ပေးသည်။

ထို့ပြင် သူ့ ငါးလေးကို နာမည်တွေလည်း အမျိုးမျိုး အဖုံဖုံ တီထွင်ဖန်တီးပြီး ပေးနေလေ့ရှိသည်။ သည် တစ်နေ့ "ဂျော(စ)" လို့ ခေါ်နေရာက နောက်တစ်နေ့ “ဆွင်မီ” ဖြစ်ချင်ဖြစ်သွားမည်။ တစ်ခါတလေကျတော့လည်း “ပက်(တ)စီ”၊ “မေဘယ်လ်" စသဖြင့် အဲသည်အချိန် အခိုက်အတန့်အဖို့ သူနှစ်သက်နေသည့်

လူနာမည်တစ်ခုခု မှည့်ချင် မှည့်ထားတတ်သည်။ ပြီး ငါးကလေးက သူ သဘောအတိုင်း အထီးဖြစ်ချင်ဖြစ်လိုက် အမ ဖြစ်ချင် ဖြစ်လိုက် အမြဲပြောင်းလဲ၍နေတတ်သည်။

သို့သော်၊ ဆိုးသည်က ရွှေငါးလေးတွေ အသက် မရှည်ကြခြင်း ဖြစ်သည်။ အဲသည်အတွက် ကျွန်မတို့ လူကြီးတွေအားလုံး စုပေါင်းကာ အယ်လီကန်ထဲမှာ ငါး အရှင်လေးတစ်ကောင် အမြဲရှိနေအောင် စီမံပေးထားရန် ကြံစည်ကြသည်။ ညအိပ်ခါနီး အယ်လီကို နှုတ်ဆက် ပြီးတိုင်း ကန်ထဲက ငါးလေးကို ကျွန်မအကဲခတ်ရသည်။ ညဘက် တစ်ရေးနိုးမှာ သူတို့တတွေကို စောင့်လိုက်ခြုံ ပေးရင်းလည်း ငါးလေးကို ကျွန်မကြည့်သည်။ နောက်တွင် သမီးကြီး အင်နာလည်း ညအိပ်ရာမဝင်မီ ငါးလေးကို အကြိမ်ကြိမ် ကြည့်ရှုစစ်ဆေးလေ့ရှိတာ တွေ့လာရသည်။ ငါးလေး ပါးဟက် နားတစ်ဝိုက်က သိပ်မကောင်း ချင်တော့တာ တစ်ယောက်

ယောက်က စတင်သတိပြုမိပြီ ဆိုလျှင် ရွှေငါးတွေရောင်းသောဆိုင်သို့ တိတ်တဆိတ် သွားဝယ်ကာ အသစ်တစ်ကောင်လဲထည့်ပေးရန် ခပ် မြန်မြန် စီစဉ်ရသည်။ ငါးလေး တစ်ကောင်ကိုဆင့် ငါးဆယ်မျှ ပေးရလေ့ရှိရာ မများလှသော သည်တန်ဖိုးလေးနှင့် ကလေးတစ်ယောက်၏ စိတ်ချမ်းသာပျော်ရွှင်မှုကိုကျွန်မတို့ ထိန်းသိမ်းပေးနေကြခြင်း ဖြစ်သည်။

အယ်လီကလည်း သူ့ငါးလေး သက်တမ်း ဘယ်လောက်ရှည်ရှည် နေရမလဲ တစ်ခါမျှ မေးမြန်းခြင်းမရှိခဲ့။

အင်နာ ကောလိပ်ကျောင်းသွားတက်ခါနီး နှစ်ပတ်အလိုမှာ အယ်လီ ၆ နှစ်ပြည့်သည်။ သမီးကြီးနှင့် ခွဲရမည် ဆိုတာတွေးပြီး ကျွန်မရင်ထဲမှာ အတော်ပင် ခံစာနေရ သည်။ သို့သော်တစ်ဖက်မှာ ပို၍ တွေးပူနေရသည်က အယ်လီကလေး ဘယ်လိုနေလေမည်လဲ ဆိုတာပဲ ဖြစ် သည်။

အင်နာ သွားခါစ တစ်ရက်နှစ်ရက် အယ်လီ အပြင် ဘက်သိပ်မထွက်။ သူ့အခန်းလေးထဲမှာပဲ ငြိမ်၍နေသည်။ နောက်တော့ သူ့အစ်မဆီ ဖုန်းဆက်၍ ရတာ၊ ရုပ်ပုံလေးတွေ ဆွဲပြီး ပို့ပေးနိုင်မှာတွေကြောင့် သူလည်း အခြားသူများလိုပဲ တဖြည်းဖြည်း နေသားကျလာသည်။ သို့တိုင်အောင် အရင်က ထမင်းဝိုင်းမှာ လူ ၆ ယောက် ထိုင်နေရာက ယခု ၅ ယောက်ဖြစ်သွားသည့်အခါ ဟာနေသလိုလို ခံစားမိကြရသေးသည်။

နောက်ပိုင်း၊ အင်နာလည်း သူ့ကျောင်းမှာနေသားကျပြီး ပျော်ပျော်ရွှင်ရွှင်ရှိနေတာ သိရတော့ ကျွန်မတို့ အားလုံးလည်း စိတ်လက်ပေါ့ပေါ့ပါးပါးဖြစ်သွားကြသည်။

တစ်ညမှာတော့ အယ်လီနှင့် ကေလာကို ညအိပ်ဖို့အတွက် ပြင်ဆင်ပေးနေစဉ် အယ်လီက မေးသည်။

"မေမေ၊ ဒီငါးလေး သေသွားရင် မမအင်နာ အိမ်ပြန်လာပြီး အသစ်တစ်ကောင် လဲပေးမှာလားဟင်"ဟူ၍၊

ကျွန်မ အံ့အားသင့်သွားသည်။

သို့သော် တကယ်တော့ သည်ကိစ္စက အံ့သြစရာမဟုတ်။ ကလေးတွေလည်း ပတ်ဝန်းကျင်ကို မြင်တတ် တွေ့တတ် သတိမူမိတတ်ကြသည်သာပင်။ ကျွန်မ သူ့ကို ပြုံး၍ကြည့်ကာ၊ ရွှေငါးလေးတစ်ကောင် သေသွားတိုင်း အသစ်တစ်ကောင် လဲပေးသည့်အကြောင်း သူသိတာ ဘယ်လောက်ကြာပြီလဲ မေးကြည့်မိသည်။

အယ်လီက ပခုံးကိုသာတွန့်၍ပြသည်။ အခုရှိနေတဲ့ငါးလေးဟာ ဟိုးအရင်တုန်းက အင်နာစဝယ်လာ ခဲ့တဲ့ငါးလေး မဟုတ်ဘူးဆိုတာ သိရတော့ သူ့စိတ်ထဲ ဘယ်လိုခံစားရသလဲ မေးသည့်အခါ ဘာမှမဖြစ်ပါဘူး ဟု ဖြေသည်။

အဲသည်အတွက် သူ့မှာ ပြဿနာမဖြစ်။ သူ့စိတ် ထဲမှာ သူနှင့်အင်နှာ ကစားနေကြသည်ဟူ၍ပဲ သဘော ထားသည်။ ငါးကလေး သေသွားတာကို သူဝမ်းနည်းနေ မှာစိုး၍ အင်နှာက သူ မသိအောင် အသစ်တစ်ကောင် လဲထည့်ပေးသည်။ သူက အဲဒါကို မသိချင်ယောင်ဆောင် ပြီး အလိုက်သင့် နေသည်။

ကျွန်မ ယခုမှပင် သဘောပေါက်ရတော့သည်။ သမီး အယ်လီအိပ်ရာနံဘေးရှိ ငါးကန်ထဲ၌ ပျော်ရွှင်စွာကူးခတ်လျက် ရှိသော အရာလေးသည် ညီအစ်မနှစ်ဦး အပြန် အလှန် မေတ္တာ ဖလှယ်မှု၏ အမှတ်သင်္ကေတကလေး ဖြစ် နေချေသည်တကား။ ငါးလေးတွေသာ ပြောင်းလဲနေသော်လည်း ချစ်ခင်ကြင်နာမှု အမှတ်သင်္ကေတကား မပြောင်းမလဲ တည်မြဲနေချေသည်။

သူတို့အခန်းထဲက မီးကို မှိတ်ပြီးသည့် နောက်တွင် မှိန်မှိန်လေး လင်းနေသေးသည့် ငါးကန်ငယ်ကို ကြည့်ကာ အတွေးတစ်ခု ခေါင်းထဲဝင်လာသည်။

“ရွှေငါးလေးတွေနဲ့ ပတ်သက်လို့ နောက်ထပ်ကောင်း တဲ့ အချက်တစ်ခု ရှိသေးတာကိုး၊” ဟူ၍။

**[မူရင်း။ ။ Marsha Arons ၏ The Thing About Goldfish]**



## “ဆင်စွယ်နဲ့ မဟူရာ”

တောင်ပံတစ်ဖက်စီသာပါတဲ့ ငှက်နှစ်ကောင်
ပခုံးဖက် လက်တွဲ
လေမှာ အတူပျံဝဲကြပေါ့၊

၁၉၈၃ ခုနှစ် နွေဦးရာသီမှာ အရှေ့တောင်ပိုင်း ကိုယ်ထူကိုယ်ထ စခန်းသို့ ရုပ်ပဗေဒ ကုသမှု ရယူရန် ဂရက် ပက်ထရစ် ရောက်လာသည်။

အဲသည်က ဝါရင့်ဝန်ထမ်းတစ်ဦးဖြစ်သူ မီလီမက္ကာ ဟူးချ်က မားဂရက်အား စခန်းမှာရှိနေသူများနှင့် မိတ်ဆက် ပေးသည်။ တစ်နေရာမှာ မားဂရက် စန္ဒရားကြီး တစ်လုံးကိုမြင်ပြီး ဝမ်းနည်းသောမျက်နှာနှင့် ငေးကြည့်နေတာ သတိပြုမိတော့ မီလီက မေးသည်။

“ဘာဖြစ်လို့လဲဟင်”

“ဘာမှ မဟုတ်ပါဘူး” မားဂရက်က လေသံ ပျော့ပျော့နှင့် ဆိုသည်။ “စန္ဒရားမြင်တော့ အရင်တုန်းက အကြောင်းတွေ သတိရလို့ပါ၊ လေမဖြတ်ခင်တုန်းကတော့ ဂီတက ကျွန်မဘဝပဲလေ၊”

မီလီက မားဂရက်၏လှုပ်ရှားမရသောညာဘက် လက်ကို အမှတ်မဲ့ ကြည့်မိသည်။ မားဂရက်က ထူးချွန်သော လူမည်း ဂီတပညာရှင်တစ်ဦး ဖြစ်သည်။ တစ်ချိန်တုန်းက ဂီတနယ်ပယ်မှာ စွမ်းဆောင်ခဲ့သည့် သူမ၏ထူ ခြားသော လုပ်ရပ်တချို့အကြောင်း မီလီအား သူပြောပြနေမိသည်။

ရုတ်တရက် မီလီက တစ်စုံတစ်ခု သတိရဟန်ဖြင့် “ခဏလေးနော်၊ ဒီမှာနေဦး၊ ကျွန်မခုပဲပြန်လာခဲ့မယ်၊” ဆိုပြီး ထွက်သွားသည်။ အတော်လေးကြာ၍ သူပြန်လာသည့်အခါ သူ့နောက်မှာ အမျိုးသမီးတစ်ယောက် ပါလာသည်။ အမျိုးသမီးက

သေးသေးကွေးကွေး။ ခေါင်းလုံးဖွေးနေသည့် ဆံပင်နှင့်၊ မျက်မှန် ထူထူနှင့်။ သူက လမ်းလျှောက် အထောက်အကူ (walker) ကို သုံးပြီး လျှောက်လာသည်။

"မားဂရက် ပက်ထရစ်၊ သူက ရှသ်အိုင်ဇင်ဘာ့ဂ် ဟု မိတ်ဆက်ပေးပြီးနောက် မီလီက ပြုံး၍ပြောသည်။ "သူလဲ စန္ဒရားသမားပဲ၊ ဒါပေမဲ့ မားဂရက်လိုပဲလေဖြတ်ပြီးကတည်းက စန္ဒရားမတီးနိုင်ဘူး၊ မစ္စစ်အိုင်ဇင်ဘာ့ဂ်က ညာဘက်လက် ကောင်းတယ်၊ မားဂရက်က ဘယ်ဘက်လက်ကောင်းတယ်၊ နှစ်ယောက်သာ တွဲလိုက်ရရင် အရမ်းကို အဆင်ပြေမှာပဲလို့ ကျွန်မ စဉ်းစားမိတယ်၊"

"ရှိုပန်ရဲ့ ဝေါ့ဇ်ကို တီးကြည့်ရအောင်လား" ရှသ်က မားဂရက်အား မေးသည်။ မားဂရက်က ခေါင်း ညိတ်သည်။

သူတို့နှစ်ယောက် စန္ဒရားခုံမှာ အတူတွဲထိုင်ကြသည်။ ခလုတ်ခုံပေါ် တင်လာသည့် ကျန်းမာသန်စွမ်းသော လက်နှစ်ဖက်က တစ်ခုနှင့်တစ်ခု လုံးဝဆန့်ကျင်ဘက်။ တစ်ဖက်က အဖြူ တစ်ဖက်က အနက်။ တစ်ဖက်က အတို တစ်ဖက်က အရှည်။ အဖြူရောင် လက်ချောင်း လေးတွေက တိုတိုဖောင်းဖောင်း၊ အနက်ရောင် လက်ချောင်းတွေက ရှည်ရှည်သွယ်သွယ်။ သို့သော် စန္ဒရား၏ ဆင်စွယ်ရောင်နှင့် မဟူရာရောင် ခလုတ်များပေါ်တွင် ပြေး လွှားတီးခတ်သည့်အခါ၌မူ လက်နှစ်ဖက်က တစ်စိတ် တည်း တစ်ဝမ်းတည်း။

အဲသည်နေ့မှ စတင်ကာ စန္ဒရားခုံမှာ သူတို့ နှစ်ယောက် အကြိမ်ရာပေါင်းများစွာ အတူတွဲထိုင်ကာ တီးခတ်ဖြစ်ခဲ့ကြသည်။ ရှယ်၏ ကောင်းသော ညာလက်က တေးသွားအလိုက် (melody) ကို တီးခတ်၍ မားဂရက်၏ ကောင်းသော ဘယ်လက်က နောက်ခံ အသံအတွဲ အဖက်များ

(accompaniment) ကို တီးခတ်စဉ် မားဂရက်၏ မသန်စွမ်းသော ညာဘက်လက်က ရှည်၏ နောက်ကျောဘက်မှာ၊ ရှည်၏ ခွန်အား ကင်းမဲ့သော ဘယ်ဘက်လက်က မားဂရက်၏ ပေါင်ပေါ်မှာ အသီးသီး ငြိမ်သက်စွာ။

သူတို့နှစ်ဦး တွဲဖက်၍ ရုပ်မြင်သံကြား ပရိသတ်များကို ဖျော်ဖြေခဲ့ကြသည်။ စာသင်ကျောင်းများ၊ ဘုရားရှိခိုး ကျောင်းများ၊ နာလန်ထစခန်းများ၊ ဘိုးဘွားရိပ်သာများတွင် တီးခတ်ခဲ့ကြသည်။ စန္ဒရားထိုင်ခုံမှာ အတူတွဲထိုင်ရင်း ဂီတ သာမက ဘဝ၏ အခြားအခြားသော ကဏ္ဍရပ်များကိုပါ မျှဝေ ခံစားဖြစ်ခဲ့ကြသည်။ ရှိုပန်၊ ဘတ်(ခ)၊ ဗေထိုးဗင် စသည့် ဂန္ထဝင် ပညာရှင်ကြီးများ၏ ဂီတလက်ရာများတွင် ကျွမ်းဝင်တာချင်း တူညီကြသလို၊ နှစ်ဦးစလုံးမှာ မြေးမြစ်ကိုယ်စီ ရှိကြတာ၊ ခင်ပွန်းသည်များ မရှိကြ တော့တာ၊ သားတွေ မိမိတို့ထက်အရင် ကွယ်လွန်ခဲ့ကြတာ၊ စသဖြင့် သူတို့ဘဝ ဖြစ်ရပ်တွေကလည်း

ထင်တာ ထက်ပို၍ အများကြီး တူညီနေကြတာ သူတို့တွေ့ကြရသည်။

တကယ့်ဘဝတူများပင်။

“ကျွန်မဆီက ဂီတကို ပြန်ရုပ်သိမ်းသွားကြပေမယ့် ဘုရားသခင်က ကျွန်မအတွက် ရုသ်ကို အစားထိုးပေး ခဲ့တယ်၊” မားဂရက် ပြောလေ့ရှိခဲ့သည်။ ရုသ်ကလည်း “ကျွန်မတို့ နှစ်ယောက် ဆုံစည်းဖြစ်ခဲ့တာကတော့ တကယ့် အံ့ချီးဖွယ်ရာပါပဲ” ဟူ၍ လိုက်လှဲစွာဆိုသည်။ ဤသည်က ဂီတသမား အဘွားအို မားဂရက်နှင့် ရုသ်တို့ ဆုံစည်းမိခဲ့ကြပုံအကြောင်း ဖြစ်၏။ သူတို့ကို တေးဂီတ ပရိသတ်က မားဂရက်နဲ့ ရုသ်အတွဲဟု ခေါ်လေ့ရှိကြ၏။ သို့သော် သူတို့ကိုယ်တိုင်ကမူ ဆင်စွယ်နဲ့ မဟူရာ ဟူ၍ သူတို့ဘာသာနာမည်ပေးထားကြချေသည်။

**[မူရင်း။ Margaret Patrick ၏ The Story of Margaret and Ruth]**

## “ခွင့်လွှတ်ခြင်း သင်ခန်းစာ”

မေနထက်

သီလကို

ဦးစားပေးပါ။

[အေမော့စ် လောရင့်(စ)]

၄၃ နှစ်လောက် ကြာပြီးသည့်နောက်မှာတော့ သာမန် သိကျွမ်းသူတစ်ဦးကို နာမည်မှတ်မိဖို့ မလွယ်တော့ပါ။ တကယ် လည်း ကျွန်တော်ငယ်စဉ်တုန်းက သတင်းစာပို့ခဲ့ဖူးသည့် အိမ် တစ်အိမ်မှ အဲသည်အမျိုးသမီးကြီး၏ နာမည်ကို ကျွန်တော် လုံးဝမေ့သွားခဲ့ပါပြီ။

၁၉၅၄ ခုနှစ်။ ဝစ္စကွန်ဆင်ပြည်နယ် မရင်နက်မြို့မှာ။ ကျွန်တော်က ၁၂ နှစ်သားပဲ ရှိသေးသည်။ သို့သော် အဲသည် အချိန်က ကျွန်တော့်အား သည်အမျိုးသမီးကြီး ပေးခဲ့သည့်

သင်ခန်းစာတစ်ခုကိုကား မနေ့တစ်နေ့ကလိုပင် ပီပီပြင်ပြင် မှတ်မိနေဆဲ ဖြစ်သည်။ တစ်ပါးသူသို့ လက်ဆင့်ကမ်း မျှဝေချင်စရာ 'ခွင့်လွှတ်ခြင်း' သင်ခန်းစာတစ်ခု။

စနေနေ့ တစ်ညနေမှာ ကျွန်တော်နှင့် သူငယ်ချင်းတစ်ယောက် မဟုတ်တာတစ်ခုလုပ်မိကြသည်။ အဲသည် အမျိုးသမီးကြီး၏ အိမ်ခေါင်မိုးပေါ်သို့ သူ့အိမ်နောက်ဘက် မမြင်ကွယ်ရာတစ်ခုမှ ကျောက်ခဲနှင့်ပစ်ကြခြင်း ဖြစ်သည်။ ရည်ရွယ်ချက်က တခြားဘာမှမဟုတ်၊ အိမ်ခေါင်မိုးစောင်းမှ လိမ့်ဆင်းကျလာသည့် ကျောက်ခဲဒိုးပုံတွေ ခေါင်မိုးအစွန်းမှနေ၍ ခြံထဲသို့ အရှိန်နှင့်ထိုးကျသွားပုံမှာ ဥက္ကာခဲကြွေသည်နှင့် တူလှသည်ဟူ၍ ကျွန်တော် တို့ သဘောကျကြခြင်းသာ ဖြစ်သည်။

တစ်ကြိမ်မှာတော့ အလွန်ချောမွတ်သည့် ကျောက်ခဲတစ်လုံး ကျွန်တော်တွေ့ရပြီး ယူ၍ပစ်လိုက်သည့်အခါ ကျောက်ခဲ

က လက်ထဲချောကာ ခေါင်မိုးပေါ်မရောက် ဘဲ အမျိုးသမီးကြီး၏ အိမ်နောက်ဖေး ဆင်ဝင်မှ ပြတင်းပေါက်တစ်ခုကို တိုက်ရိုက် ထိမှန်သည်။ မှန်ကွဲသံကြားသည်နှင့် တစ်ပြိုင်နက် နှစ်ယောက် သား ကျွန်တော်တို့ လွှတ်သည့် ဒုံးပျံများထက် ပို၍လျင်မြန်သော နှုန်းဖြင့် ပြေးလာခဲ့ကြသည်။

အဲသည်ညမှာတော့ လက်သည်ပေါ်မှာ ကြောက်သော စိတ် ဖိစီးနေသဖြင့် မှန်ကွဲသည့်ကိစ္စကို အမျိုးသမီးကြီးဘက်မှ ကျွန်တော်လုံးဝ မစဉ်းစားနိုင်ခဲ့။ သို့သော် နောက်ရက် အနည်း ငယ်ကြာပြီး ကျွန်တော်တို့ လုပ်မှန်း ဘယ်သူမှမသိဟု စိတ်အေး ရပြီဆိုသည့်အခါ၌မူ ကျွန်တော့်ကြောင့် အမျိုးသမီးကြီးမှာ ထိခိုက်နစ်နာရခြင်းအတွက် အပြစ်ရှိသလို ခံစားလာရသည်။

အမျိုးသမီးကြီးက နေ့စဉ် ကျွန်တော်သတင်းစာပို့ တိုင်း အပြုံးနှင့်ပင် ဆီးကြိုသည်။ သို့သော် ကျွန်တော့်မှာတော့ ကြာလေ သူနှင့်တွေ့လျှင် အနေရခက်လေ ဖြစ်လာသည်။

သို့နှင့် သတင်းစာပို့ခ ရသည့် ငွေလေးကို စုမည်ဟု ကျွန်တော်ဆုံး ဖြတ်လိုက်သည်။ သုံးပတ်ခန့်ကြာသည့် အခါ၌ ပြတင်းပေါက်ပြင်ဆင်ရန် လုံလောက်သည့် ပမာဏဟု ကျွန်တော် ယူဆသည့် ငွေခုနစ်ဒေါ်လာ စုမိသည်။ သည်ငွေကို စာအိတ်ထဲ ထည့်ပြီးနောက်၊ မှန်ကွဲသွားသည့်အတွက် ဝမ်းနည်းပါကြောင်း၊ ယခုငွေ ခုနစ်ဒေါ်လာဖြင့် ပြန်လည်ပြင်ဆင်၍ ရနိုင်မည်ဟု မျှော်လင့်ပါကြောင်း စာတစ်စောင်ပါ ရေး၍ထည့်သည်။

ထို့နောက် နေဝင်ချိန်ရောက်အောင် စောင့်ကာအမျိုး သမီးကြီးအိမ်နား ချဉ်းကပ်ပြီး လျော်ကြေးပေးသည့် စာအိတ်ကို သူ့ အိမ်တံခါးက စာတိုက်ပုံးထဲ ထည့်သည်။

အဲသည်နောက်မှာ ကျွန်တော့်ရင်ထဲ တအားပေါ့ပါး သွားသည်။ ကျွန်တော့်စိတ်မှာ လွတ်လပ်သွားသည်။ အဘွားကြီး နှင့်တွေ့လျှင် သူမျက်နှာကို တည့်တည့်ကြည့်ရဲပြီ၊ အဲသည်လို လည်း ကြည့်ချင်လှပြီ။

နောက်တစ်နေ့နံနက် သတင်းစာသွားပေး၍ သူက လိုက်လိုက်လဲ့လဲ့ပြုံးပြီး နှုတ်ဆက်သည့်အခါ ကျွန်တော် လည်း အလားတူ တုံ့ပြန်နိုင်ခဲ့သည်။

အမျိုးသမီးကြီးက သတင်းစာယူရင်း ကျေးဇူးတင် စကားဆိုသည်။ အဲသည်နောက်၊ "ဟောဒီမှာကွယ်၊ မင်းအတွက်" ဆိုပြီး အထုပ်ကလေးတစ်ထုပ်ပေးသည်။ အထဲမှာ ကွတ်ကီတွေ။

ကျေးဇူးတင်ကြောင်း ပြောပြီးနောက် ကျွန်တော် ကွတ်ကီ စားရင်း သတင်းစာဆက်ပို့သည်။

အတော်များများ နှိုက်စားပြီးသည့်နောက်တွင် ကွတ်ကီးထုပ်ထဲမှ စာအိတ်တစ်အိတ် စမ်းမိပြီး ကျွန်တော်ဆွဲ ထုတ်လိုက်သည်။ စာအိတ်ကို ဖွင့်ကြည့်သည့်အခါ ကျွန်တော် အကြီးအကျယ် အံ့အားသင့်သွားမိရသည်။ အထဲမှာ ငွေခုနစ်ဒေါ်လာနှင့် စာတစ်ရွက်။ စာရွက်ပေါ်၌မူ၊ "မင်းအတွက် ဂုဏ်ယူပါတယ် ကွယ်" ဟူသော စာတစ်ကြောင်း ရေးသားထားလေသည်။

**[မူရင်း။ ။ Jerry Harpt ၏ True Forgiveness]**



## "ဘွားဘွားပေးတဲ့ မျိုးစေ့အမွေ"

ကျွန်မက ညီအစ်မလေးယောက်ထဲမှာ အငယ်ဆုံး ဖြစ်ရာ မိသားစု တွေ့ဆုံပွဲများကျလျှင် ဘွားဘွားလူး၏ ဝေယျာဝစ္စတွေ အမြဲလုပ်ရလေ့ရှိသည်။

ဘွားဘွားက ကျွန်မတို့မိသားစု အဝန်းအဝိုင်းထဲမှာတော့ တကယ့် ဥယျာဉ်မှူးကြီးဖြစ်သည်။ ဘွားဘွားက စီးပွားပျက်ကပ် ကြီးဆိုက်သည့် ကာလကို ဖြတ်သန်းခဲ့ရသူဖြစ်ရာ ဘယ်ပစ္စည်း မဆို နှစ်ခါတော့ သုံးတတ်သည်။ တခြား ဘယ်မှ သုံးမရတော့ ဘူးဆိုလျှင်ပင် သူမ၏ ဥယျာဉ်ထဲမှာတော့ ရအောင်သုံး သေးသည်။

ဘွားဘွားလူး အိမ်အလည်လာပြီဆိုလျှင် မျိုးစေ့ထုပ် တွေ သူနှင့်အတူ ပါလာမြဲဖြစ်သည်။ မျိုးစေ့တွေကို စာအိတ်ဟောင်းတွေထဲမှာ ထည့်ကာ စိုက်ပျိုးနည်း လမ်းညွှန်တွေ

ရေးပေးထားမည်။ သူ့အညွှန်းတွေက ရှေးရိုး လက်ရေးကြီးတွေနှင့်။ သို့သော် အလွန်တိကျသည်။

မျိုးစေ့ပေးလျှင် ကျွန်မတို့ညီအစ်မ တစ်ယောက်ခွအတွက် ဘယ်မျိုးစေ့ ဘယ်အပင်ဟူ၍ သူ တိတိကျကျခွဲခြားပေးလေ့ရှိသည်။ များသောအားဖြင့်တော့ အပင်စိုက်ရမှာဝါသနာလည်းမပါ စိတ်လည်း မရှည်သော ကျွန်မအစ်မတွေကိုခရမ်းချဉ်ပင်၊ မုန်လာပင်၊ မာရီဂိုးလ်ပင် စသည့် ဘယ်လိုစိုက်စိုက်ရှင်သော အပင်တွေပေးပြီး၊ ကျွန်မကျလျှင်သာ အပြုအစုလိုသော နုနုနယ်နယ်အပင်တွေ သူပေးလေ့ရှိသည်။

ကျွန်မအထက်က အစ်မ မင်္ဂလာဆောင်သည့်အချိန်မှာဘွားဘွားလူးက အသက် ၈၄ နှစ်ရှိနေပြီ။ သို့သော် အဲသည်အချိန်တိုင် တစ်ဦးတည်း နေထိုင်တုန်း၊ သူ့ စိုက်ခင်းတွေကိုကိုယ်တိုင် ပေါင်းသင်မြေဆွတုန်း။

အစ်မကြီးတွေ မင်္ဂလာဆောင်တုန်းက မင်္ဂလာ လက်ဆောင်အဖြစ် ဘွားဘွားက အပင်မျိုးစေ့ပုလင်းတွေ ပေးသလို ယခု အစ်မဂျင်နီအလှည့်မှာလည်း ဘွားဘွားက သူ့ခြံထွက်မျိုးစေ့တွေ အပြည့်ထည့်ထားသည့် ဖန်ပုလင်းတစ်လုံး ပေးပြန်သည်။

အဝကျယ်ပုလင်းကြီးထဲမှာ မျိုးစေ့ရောင်စုံတွေ လှလှပပ စီစီရီရီမြင်တွေ့ရသည်။ မြေရောင်စိုစို ပဲတောင့်စေ့ကြီးတွေက ပုလင်းအောက်ခြေမှာ ငြိမ်သက်လျက်။ သူ့အထက်မှာ ပြောင်းစေ့တွေ။ ပိတ်ပါးစနှင့် ပွတ်တိုက်ထား သဖြင့် ရွှေရောင်ပြောင်ချနေသည်။ အပေါ်ပိုင်း ရောက်လာတော့ သခွားစေ့၊ ဖရုံစေ့၊ ဖရဲစေ့၊ ဘူးစေ့ ပြားပြား ရှည်ရှည်တွေ။ သူတို့ကြားမှာ ဟိုတစ်စေ့ သည်တစ်စေ့ ရောယှက်၍ ရှိနေသည်က မာရီဂိုးလ်စေ့များ။ အဲသည်နောက် အပေါ်ဆုံးမှာ ပိတ်စိမ်းပါးနှင့် သီးခြားခွဲထုတ်ထားသည့် နံနံစေ့၊ ပင်စိမ်းစေ့များ။

ဖန်ပုလင်းအဖုံးက အရောင်တောက်ပသည့် ကြေးဝါ သတ္တုဖုံး ဖြစ်ပြီး ပုလင်းကို ဖဲကြိုးနှင့် လှပစွာချည်ထားသည်။

ပုလင်းထဲမှာ ထည့်ပေးထားသည့် အပင်မျိုးစေ့တွေ က တစ်သက်စာ ဖူလုံသည်။ အသစ်စက်စက် ဇနီးမောင်နှံ အတွက် ဥယျာဉ်မှ ထွက်သမျှ သစ်သီးဝလံ အားလုံး မင်္ဂလာလက်ဆောင် ပေးလိုက်သည့်သဘောပင်။

နောက်နှစ်နှစ်အကြာမှာ ဘွားဘွား လေဖြတ်သည်။ စောင့်ရှောက်ရေး ဂေဟာတိုက်ခန်းသို့ မလွှဲမရှောင်သာ ပြောင်းရွှေ့နေရသည်။ အဲသည်နှစ် ကျွန်မ လက်ထပ်သည့်အခါ အဘွားမလာနိုင်တော့။ သို့သော် မင်္ဂလာလက်ဖွဲ့ရသည့် ပစ္စည်း များထဲမှာ ဘွားဘွားဆီက ဖန်ပုလင်းတစ်လုံးလည်းပါတာတွေ့ ရတော့ ကျွန်မဝမ်းသာ သွားမိသည်။

သို့သော် အစ်မတို့တုန်းကလို ပုလင်းထဲမှာ မျိုးစေ့တွေ လှလှပပ စီစီရီရီ မဟုတ်တော့။ ကြည့်ရသည်မှာ မျိုးစေ့တွေ အားလုံး ခေါင်းအုံးစွပ်အဟောင်းတစ်ခုထဲ ရောနှောသိမ်းဆည်း ထားရာက ကျွန်မအတွက် ပုလင်းထဲ သွန်ထည့်ပေးလိုက်ရ ဟန်တူသည်။ အဖုံးကလည်း အတော့်ကို ဟောင်းနေပြီ။ အဖုံးသစ် အဆင်သင့်မရှိ၍ ရရာကိုပဲ သုံးလိုက်ရပုံပင်။ သို့သော် ဘွားဘွား၏ ကျန်းမာရေးအခြေအနေအရ စဉ်းစားလျှင်မူ သူ့ဘက်က အစဉ်အလာ မပျက်ရအောင် အဲသည်လောက် ဆောင်ရွက်ပေးခြင်းသည်ပင် ဝမ်းမြောက်ကြည်နူးစရာ တစ်ရပ် ဖြစ်သည်။ ကျွန်မခင်ပွန်း မာ့ခ်က မြို့ထဲမှာအလုပ်ရတော့တိုက် ခန်း ကျဉ်းကျဉ်းလေးတစ်ခုဆီ ကျွန်မတို့ ပြောင်းရွှေ့နေ ထိုင်ရသည်။ ဥယျာဉ်စိုက်ပျိုးဖို့ဆိုသည်က လုံးဝမဖြစ်နိုင်။ သို့နှင့် ဘွားဘွား၏ မျိုးစေ့ပုလင်းကြီးကို ဧည့်ခန်းထဲမှာ တင်ထားရုံပဲ တတ်နိုင်ခဲ့သည်။ နောင်တစ်နေ့ကျလျှင်တော့ ဥယျာဉ်စိုက်ပျိုး

ရေးကို ကောင်းကောင်းလုပ်ဦးမည်ဟု ကိုယ့်ကိုကိုယ် ကတိပေး ထားသည့်သဘော။ ကျွန်မ အမြွှာလေးနှစ်ယောက် မွေးသည့်နှစ် မှာ ဘွားဘွား ဆုံးသည်။ ကလေးတွေ လမ်းလျှောက်စမ်းစ အရွယ်မှာ ဘွားဘွားရဲ့ မျိုးစေ့ပုလင်းကြီးကို သူတို့လေးတွေ စမ်းသပ် ကိုင်တွယ်ရင်း ကျကွဲမှာစိုးသဖြင့် ရေခဲသေတ္တာပေါ် ကျွန်မ တင်ထားလိုက်သည်။

နောက်ပိုင်း၌ တိုက်ခန်းမှ အိမ်သို့ ကျွန်မတို့ ရွှေ့ဖြစ် ခဲ့သည်။ သို့သော် သည်အိမ်တွင်လည်း ခြံဝင်းထဲမှာ အပင် စိုက်လောက်အောင် နေရောင်ခြည်မရ။ ခြံထဲမှာ ဒင်ဒီလိုင်ယန် ပန်းရိုင်းပင်တွေ ရှိသည်။ ပန်းပင်စုတွေကြား ကတ်ကတ် သတ်သတ် နေရာလေးများမှာ ဖက်စကျူး မြက်တွေ တိုးဝှေ့ နေရာယူနေသည်။ သည်မြက်ခင်းကို ညှိပေး တိပေးရုံ၊ တစ်ခါ တစ်ခါ ရေဖျန်းပေးရုံ လောက်သာ ကျွန်မ တတ်နိုင်ခဲ့သည်။

ဘာမှကြာသည် မထင်လိုက်ရ၊ သားနှစ်ယောက်က နေ့ချင်းညချင်း ဆိုသလို လူလားမြောက်လာပြီး များမကြာမီပင် ကိုယ့်လမ်းကြောင်းပေါ် ကိုယ်လျှောက်ကြ တော့သည်။

မာ့ခ်က အငြိမ်းစားယူဖို့ စဉ်းစားစပြုပြီ။ ကျွန်မတို့ နှစ်ယောက် အနာဂတ်အတွက် တိုင်ပင်နှီးနှောကြသည်။ ကျေးလက်မှာ ခြံလေးတစ်ခြံဝယ်မည်၊ မာ့ခ်က ငါးမျှား ကျွန်မက ဥယျာဉ်လေး စိုက်ပြီး အေးချမ်းစွာနေကြမည်၊ စသဖြင့်။

သို့သော်၊ တစ်နှစ်ခန့်အကြာမှာ မာ့ခ် ကားတိုက်ခံ ရသည်။ အရက်မူးနေသည့် ကားမောင်းသူတစ်ယောက်က ဝင်တိုက်သွားခြင်း ဖြစ်သည်။ လည်ပင်းမှ ခြေဖျားအထိ မာ့ခ်ကိုယ်အောက်ပိုင်းတစ်ခုလုံး သေသွားသည်။ ကျွန်မတို့ စုဆောင်းထားခဲ့သမျှတွေသည် ဆေး ကုသရသည့်စရိတ်ထဲ ပါသွားကြသည်။ ရူပဗေဒ ကုသမှုကြောင့် မာ့ခ်၏လက်တွေ

အနည်းငယ်လျှပ်ရှား၍ ရလာသော်လည်း သူနာပြု အစောင့်အရှောက်က မလွတ်နိုင်သေး။

ကျွန်မမှာ ဆေးရုံပြေးရ ငွေရေးကြေးရေးအတွက် တွေးပူရနှင့် လုံးချာလည်ကာ လူက အင်အားကုန်ခန်းပြီ။ မျှားမကြာမီ မာ့ခ်အား ဆေးရုံက ကျွန်မလက်ထဲ လွှဲပေးတော့မည်။ ကျွန်မက သူ့ ခန္ဓာကိုယ် တစ်ဝက်လောက်ပဲ ရှိသည်။ သူ့ ကိုအိပ်ရာပေါ် မတင်ဖို့ပင် မတတ်နိုင်။ ဘာဆက်လုပ်ရမှန်း ကျွန်မစဉ်းစား၍ပင်မရ။ အချိန် ပြည့် သူနာပြု ငှား၍ နေ့စောင့်ပင် ငှားနိုင်သည့် အခြေအနေ မရှိတော့။ ကျန်းမာရေးဂေဟာ တိုက်ခန်းဆိုသည်ကိုကား ပြောမနေနှင့်တော့။

လူမောစိတ်မောမို့ ကျွန်မတစ်ယောက်တည်း ဆိုလျှင် ဘာအစာမှပင် မစားဖြစ်။ သို့သော် ကျွန်မနှင့် အနီး အနားမှာပင် နေသည့် အစ်မဂျင်နီက ကျွန်မထံ နေ့တိုင်းလာကာ ဟိုဟာလေး

နည်းနည်း သည်ဟာလေး နည်းနည်း စားဖြစ်အောင် အတင်း ကျွေးသည်။ တစ်ညမှာ အစ်မဂျင်နီ ခေါက်ဆွဲကြော်တွေ တစ်ဒယ် ကြီးယူပြီး ရောက်လာသည်။ စားသောက်ဖို့ အတူပြင်ရင်း သူက သွက်လက် ရွှင်ပျစွာ စကားတွေ ပြောနေသည်။ မာ့ခ် အကြောင်း မေးတော့ ကျွန်မမျက်ရည်ကျသည်။ သူ့ကို မကြာမီ အိမ်ပြန် ခေါ်ရမည့်အကြောင်းနှင့် ငွေကြေးအခြေအနေ အလွန်ဆိုး နေသည့် အကြောင်းတွေ ဖွင့်ပြောတော့ အစ်မက သူစုဆောင်း ထားသည့် ငွေလေးပေးမည့်ကြောင်း ပြောရှာသည်။ ပြီး သူကိုယ် တိုင်ပါ ကျွန်မအိမ်လာပြီး ကူညီပြုစုပေးမည်ဟုဆိုသည်။ သို့သော် မာ့ခ်က သူတစ်ပါးဆီက အဲသည်လို အကူအညီမျိုး ဘယ်နည်းနှင့်မှ ယူမှာမဟုတ်ဘူးဆိုတာ ကျွန်မ သိနေသည်။

ခေါက်ဆွဲကြော် ပန်းကန်ကို ကျွန်မ ငေးသာကြည့် နေသည်။ စားချင်စိတ်ကား လုံးဝမရှိတော့။ ကျွန်မတို့ နှစ်ယောက်လုံး စကားတစ်ခွန်းမျှ မဆိုဖြစ်ကြတော့။ စိတ်ဓာတ်

ကျဆင်းမှုကြီးသာ ထမင်းဝိုင်းမှာလာ၍ ကြီးစိုးနေသည်။ နောက်ဆုံးတော့ ကျွန်မကြိုးစား အားယူကာ အစ်မဂျင်နီအား ပန်းကန်တွေ ကူဆေးပေးဖို့သာ ပြောရ တော့သည်။

အစ်မဂျင်နီက ခေါင်းညိတ်ကာ ခေါက်ဆွဲကြော်တွေ သိမ်းဖို့ထသည်။ ရေခဲသေတ္တာတံခါးကိုပိတ်တော့ အပေါ်မှာ ရှိသည့် မျိုးစေ့ပုလင်းက နံရံနှင့်ထိပြီး တဂေါက်ဂေါက် မြည်သည်။ အစ်မဂျင်နီက အသံကြားရာ မော့ကြည့်ပြီး၊ "အပေါ်မှာဘာတုံး" ဟုဆိုကာ ပုလင်းဆီသို့ လှမ်းသည်။

ပန်းကန်ဆေးရာက ကျွန်မ လှည့်ကြည့်ကာ၊" သော်၊ အဲဒါ ဘွားဘွားလူး ပေးတဲ့ မျိုးစေ့ပုလင်းပါ၊ ကျွန်မတို့ လက်ထပ်တော့ တစ်ယောက်ကို တစ်ပုလင်းစီ မင်္ဂလာ လက်ဆောင်အဖြစ် ပေးတယ်လေ၊ မမှတ်မိဘူးလား၊" ဆိုတော့ အစ်မက ကျွန်မကို

တစ်လှည့် ပုလင်းကို တစ် လှည့် ကြည့်ပြီး၊ "နင် အဲဒီပုလင်း တစ်ခါမှ ဖွင့်မကြည့်ဘူးပေါ့" ဟု မေးသည်။

"ဥယျာဉ်စိုက်ဖို့ မြေကွက် ကောင်းကောင်းနဲ့လဲ တစ်ခါမှ မနေခဲ့ရပါဘူး အစ်မရယ်"

အစ်မဂျင်နီက မျိုးစေ့ပုလင်းကြီးကို လက်တစ်ဖက် နှင့် ပွေ့ထားပြီး နောက်တစ်ဖက်က ဆပ်ပြာတွေ ပေနေသည့် ကျွန်မလက်ကို ဆွဲကာ၊ "လာစမ်း၊ လာစမ်း" ဟု စိတ်လှုပ်ရှားစွာ ဆိုသည်။

ကျွန်မကို စားပွဲဆီ သူ တအားဆွဲခေါ်သွားသည်။ ပုလင်းအဖုံးကို သူ သုံးကြိမ်လှည့်ဖွင့်သည်၊ မရ။ တအား ကျပ်နေသည်။ နောက်တစ်ကြိမ်ကျတော့မှ အဖုံးပွင့် သွားသည်။

အစ်မဂျင်နီက ပုလင်းထဲမှ မျိုးစေ့တွေ အားလုံး စားပွဲပေါ် သွန်ချသည်။ မျိုးစေ့တွေ ဟိုသည် ပြန့်ကျဲပြီး

လိမ့်ကျကုန်တော့၊ "ဘာလုပ်တာလဲ မမရဲ့" ဟုပြောကာ ကျွန်မ ပျာပျာသလဲ လိုက်ကောက်ရသည်။

မတောက်ပတော့ပြီဖြစ်သည့် အညိုရောင် နီရွှေရောင် မျိုးစေ့များကြားမှာ အရောင်ဝါကျင့်ကျင့် စာအိတ်ဟောင်း တစ်အိတ် သွားတွေ့ရသည်။ အစ်မဂျင်နီက သည်စာအိတ်ကို ကောက်ယူပြီး ကျွန်မလက်ထဲ ထည့်သည်။ "ဖွင့်ကြည့်စမ်း" သူက ပြုံး၍ဆိုသည်။

အတွင်းမှာ တစ်စောင်လျှင် အစုရှယ်ယာ ၁၀၀ စီ ပါသည့် စတော့လက်မှတ် ငါးစောင်တွေ့ရသည်။ ကုမ္ပဏီ နာမည်တွေ ဖတ်ကြည့်တော့ ကျွန်မတို့မျက်လုံးတွေ ပြူး ကျယ်သွားရသည်။ "နင်တွက်ကြည့်စမ်း၊ အခုဆိုရင် ဒါ တွေ ဘယ်လောက်အထိ တန်ဖိုးရှိနေမလဲဆိုတာ၊" အစ်မ ဂျင်နီက အားပါးတရ ပြောလိုက် သည်။

ကျွန်မ မျိုးစေ့တွေ လက်တစ်ခုပ် ဆုပ်ယူကာ နှုတ်ခမ်းနားတေ့ ထားပြီး ဘွားဘွားလူးအတွက် ကျေးဇူးတင်စကား ဆုတောင်း စကားတွေ တီးတိုးရွတ်ဆိုနေမိသည်။ လွန်ခဲ့သည့် နှစ်ပေါင်း များစွာ ကာလတစ်လျှောက်လုံး ကျွန်မအတွက် ဥယျာဉ်တစ်ခု ဘွားဘွား စိုက်ပျိုးနေခဲ့သည်တကား။ သည်ခြံမှ တစ်သက်တာ ထွက်သမျှ ဘွားဘွား၏ မေတ္တာသီးနှံတွေကို ဖန်ပုလင်းဟောင်း တစ်လုံး ထဲမှာ ဘွားဘွားစုပုံထည့်သွင်းပေးခဲ့ချေသည်တကား။

**[မူရင်း။ "Dee Berry ၏ The Seed Jar]**



## “သားတစ်ယောက်တည်း ရှိတဲ့အခါ ဖတ်ဖို့”

အဲသည်တုန်းက ကျွန်တော့်အသက် ၁၃ နှစ်။ သည့်မတိုင်မီ တစ်နှစ်က ကျွန်တော်တို့ မိသားစု ဖလော်ရီဒါ မြောက်ပိုင်းမှ ကယ်လီးဖိုးနီးယား တောင်ပိုင်းသို့ ပြောင်းရွှေ့ခဲ့ကြသည်။

ကလေးဘဝမှ လူငယ်ဘဝသို့ ကူးပြောင်းစ အဲသည်ကာလမှာ ကျွန်တော့်စိတ်တွေ အလွန်ပြင်းထန်ခဲ့သည်။ အမြဲခက်ထန် မာကျောကာ အရာရာကို ပုန်ကန်ဆန့်ကျင် နေခဲ့မိသည်။ မိဘတွေစကားကို အလေးမထား။ အထူးသဖြင့် ကျွန်တော်နှင့် ပတ်သက်ပြီး ပြောလာလျှင် ပို၍အလေးမထား။ အခြားမြီးကောင်ပေါက်လူငယ်များ နည်းတူ ကိုယ့်စိတ်နှင့်မတွေ့သည့် အရာဆိုလျှင် လုံးဝ မပတ်သက်ချင်သော သဘောရှိခဲ့သည်။ ကိုယ့်ကိုကိုယ် ထူးချွန်သော၊ ပွဲကိုင်လမ်းညွှန်မှု မလိုသောလူငယ်

တစ်ယောက်အဖြစ် ခံယူကာ ပေါ်ပေါ်ထင်ထင် ပေးလာသည် မေတ္တာ စေတနာမှန်သမျှကို ငြင်းဆန်ခဲ့သည်။ စင်စစ်မေတ္တာ စေတနာဆိုသောစကား ကြားလျှင်ပင် ကျွန်တော် နားကြားပြင်း ကတ်ချင်သော သဘော ရှိခဲ့သည်။

ပြဿနာအတော်များသည့် တစ်နေ့မှာတော့ ကျွန် တော် အိမ်မှာဝုန်းဒိုင်းကြဲကာ အခန်းတံခါးကို ဆောင့် ပိတ်ပြီး အိပ်ရာထဲ ပစ်လှဲမိသည်။ အိပ်ရာမှာ တစ်ယောက်တည်း အနေခက်အယုက် ကင်းစွာ လှဲရင်း လက်ကိုအမှတ်မဲ့ ခေါင်းအုံးအောက် ထိုးမိ သည့်အခါ စာအိတ်တစ်အိတ် သွားတွေ့သည်။ ဆွဲထုတ်ပြီး ကြည့်လိုက်တော့ စာအိတ်ပေါ်မှာ၊ "သားတစ်ယောက်တည်း ရှိတဲ့အခါ ဖတ်ဖို့" ဟု ရေးထားတာ တွေ့ရသည်။

လောလောဆယ် ကျွန်တော်တစ်ယောက်တည်း ရှိ နေပြီး၊ သည်စာကို ကျွန်တော်ဖတ်ကြည့် မကြည့် ဘယ်သူမှ

မသိနိုင်သည်မို့ ကျွန်တော် စာအိတ်ကို ဖွင့်ဖတ်မိ သည်။ စာထဲမှာ၊ သားရေ၊ သားမှာ အဆင်မပြေတာတွေ အများကြီး ရှိနေတာ အမေသိတယ် သားစိတ်တိုနေတာ စိတ်ပျက်နေတာ၊ အမေတို့ လုပ်သမျှ ကိုင်သမျှ သားစိတ်နဲ့ မတွေ့ တာတွေလည်း အမေ သိပါတယ်။ ဒါပေမဲ့ အမေ သားကို လုံးလုံးလျားလျား ချစ်တယ်။ သား ဘာတွေလုပ်လုပ်ဘာတွေပြော ပြော အမေချစ်တာကတော့ တစ်ပြားသားမှ လျော့သွား ပြောင်းလဲသွားမှာမဟုတ်ဘူး။သား စကားပြောချင်တယ်ဆိုတဲ့ အချိန်တိုင်း အမေ အမြဲရှိနေမယ်၊ မပြောချင်ဘူးဆိုရင်လည်း ရတယ်။ ဒီဘဝမှာ သားဘာတွေပဲ လုပ်နေနေ ဘယ်ဆီပဲ ရောက်နေနေ အမေကတော့ သားကို အမြဲချစ်နေမယ်၊ သားရဲ့ အမေအဖြစ် ဂုဏ်ယူနေမယ် ဆိုတာတစ်ခုပဲ သားမှတ်ထားပါ။ သားကို အမြဲချစ်နေဖို့၊ သားအတွက် အမြဲရှိနေဖို့ဆိုတာ အမေ့ရဲ့ ဘယ်သောအခါမှ ပြောင်းလဲ မှာမဟုတ်တဲ့ စိတ်ဆန္ဒပါပဲ။

သားကိုအလွန်ချစ်တဲ့ အမေ၊ တဲ့။

ဤသည်က "သားတစ်ယောက်တည်း ရှိတဲ့အခါ ဖတ်ဖို့" ဟု စာအိတ်ပေါ်မှာရေးပြီး ခေါင်းအုံးအောက်တွင် ထည့်ခဲ့သည့် အမေ့စာများအနက် ပထမဆုံးစာဖြစ်သည်။ စာအစောင်များစွာ ရေးသော်လည်း ကျွန်တော်လူကြီး ဖြစ်သည့်အချိန်ထိ သည်စာတွေအကြောင်း တစ်ခါမျှ ထုတ်ဖော်မပြောခဲ့။

ယခုဆိုလျှင် ကျွန်တော်က ကမ္ဘာအနှံ့အပြား လှည့်လည်ကာ လူအများအား ကူညီသည့်အလုပ်ကိုလုပ်လျက် ရှိပြီ။ တစ်နေ့ ဖလော်ရီဒါပြည်နယ် ဆာရာတိုဆာမြို့ရှိ ဆွေးနွေးဝိုင်းတစ်ခု၌ ကျွန်တော်ဟောပြောပို့ချရသည်။ အဲသည်နေ့ ဆွေးနွေးဝိုင်း ပြီးဆုံးသည့်အချိန်၌ အမျိုးသမီး ကြီးတစ်ယောက် ကျွန်တော့်ကို လာရောက်တွေ့ဆုံကာ သူမ၏သားနှင့် ပတ်သက်၍ ဆက်ဆံပြောဆိုရ ခက်နေ ပုံအကြောင်း ဖွင့်ဟသည်။

အမျိုးသမီးကြီးနှင့်အတူ ပင်လယ် ကမ်းစပ်ဘက် လျှောက်သွားရင်း ကျွန်တော်ငယ်စဉ်ကအကြောင်း၊ စိတ်ရှည် သည်းခံတတ်လှသည့် ကျွန်တော့်မိခင်၏ ကြီးမားသော မေတ္တာနှင့် ထူးခြားသော ပေးစာများအကြောင်းတွေ ကျွန်တော် ပြောပြလိုက်သည်။

ရက်သတ္တပတ် အတော်ကြာပြီးသည့်နောက် အမျိုး သမီးကြီးထံမှ ပို့စကတ်တစ်စောင် ရောက်လာသည်။ သူမ၏ သားအတွက် ပထမဆုံး စာတစ်စောင်ရေးပြီး ပေးထားလိုက် ပြီဖြစ်ကြောင်း ကျွန်တော့်ထံ အကြောင်းကြား လိုက်ခြင်း ဖြစ်သည်။

အဲသည်ည အိပ်ရာဝင်သည့်အခါ ကျွန်တော်ခေါင်း အုံးအောက်ကို ထိုးနှိုက်စမ်းသပ်ရင်း၊ ခေါင်းအုံးအောက်မှာ စာတစ်စောင်တွေ့ရသည့်အခါတိုင်း ကျွန်တော်ကျေ နပ်အားရ

ကာ စိတ်အစိုင်အခဲတွေ ကျေပျက်သွားလေ့ရှိပုံကို သတိရမိသည်။ စိတ်လှုပ်ရှားမှု ပြင်းထန်သည့် မြီးကောင်ပေါက်အရွယ်ကာလအတွင်း၊ ကျွန်တော်ဘယ် လိုပဲရှိနေစေ ကျွန်တော့်ကို ချစ်နေမည် မုချဆိုသည့် အမေ့စာများက ကျွန်တော့်အတွက် တည်ငြိမ်မှုနှင့် စိတ်ချယုံကြည်မှုများ ပေးခဲ့သည်။ ခက်ထန်ကြမ်းတမ်းသည့် မြီးကောင်ပေါက် လူငယ်လေး ကျွန်တော့်မှာ ဘာတွေလိုအပ်နေသည်ဆိုတာ အမေသိခဲ့ခြင်းအတွက် ဝမ်းမြောက်ကြည်နူးမိရင်း ကျွန်တော် နှစ်ခြိုက်စွာ အိပ်ပျော်သွားခဲ့သည်။

သည်ကနေ့မှာတော့ ဘဝမုန်တိုင်းတွေ ဘယ်လိုထန် စေ ကျွန်တော် မမှုတော့ပြီ။ ကျွန်တော့် ခေါင်းအုံးအောက်မှာ ကျွန်တော့်ကို ယုံကြည်စိတ်ချမှုပေးမည့် မေတ္တာတရားတွေ ထာဝစဉ်ကိန်းအောင်းခဲ့ပြီ။ တွန့်ဆုတ်ပြောင်းလဲခြင်းမရှိ ထာဝရ တစ်သမတ်တည်းတည်သည့် မေတ္တာတရားသည် လူတွေ၏

စရိုက်သဘာဝများရော လူ့သဘာဝများကိုပါ ပြောင်းလဲစေနိုင်သည် ဆိုတာ အမေ့စာများအရ ကျွန်တော် အလေးအနက် သိရှိ ယုံကြည်ခဲ့ပေပြီ။

**[မူရင်း။ ။ Mike Staver ၏ To Read When You're Alone]**

